ပုံစံ(မနသ-၂)
၁၄၂၇၉
၃-၉-၂၀၁၈

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-......၆၉၀....../ ၂၀၁၈ ။ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာ လ ၃ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ဦးကျော်စိန်........

(ခ) အဘအမည် ........ဦးစိုင်းအောင်သန်း........

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ........၁၃/လရန (နိုင်) ဝ၅၉၆၃၆........

(ဃ) နေရပ်လိပ်စာ ........အမှတ် (၈၃၈)၊ ဦးဝိစာရလမ်းနှင့် ယမနေ (၆)လမ်းထောင့်၊ ၃၄ ရပ်ကွက်၊ ဒဂုံ (မြောက်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်း။........

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ........ကံကောင်းခြင်းရတနာထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Jewellery Lucky Production Co., Ltd.)........

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ........သစ်အခြေခံကုန်ချောပစ္စည်းများ ထုတ်လုပ်သည့်လုပ်ငန်း........

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ........ကွင်းအမှတ် (၁၁၇)၊ တောင်ရင်းကွင်း၊ ဘယ်လင်းကျေးရွာ၊ စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်း။........

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ........၂၅၂၀. ၄၀ (သန်း). (ကျပ်သန်းပေါင်း နှစ်ထောင့်ငါးရာ နှစ်ဆယ့်တစ်နှင့်လေးသိန်းတိတိ)........

(အမေရိကန်ဒေါ်လာ (၁. ၃၃)သန်း အပါအဝင်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၂၁/၂၀၀၈ (မနသ)

ရန်ကုန်မြို့၊ ၁၃၇၀ ခုနှစ်၊ တော်သလင်းလဆန်း ၄ ရက်

(၂၀၀၈ ခုနှစ် ၊ စက်တင်ဘာ လ ၃ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Jewellery Lucky Production Co., Ltd) မှ ရင်းနှီးမြှုပ်နှံသူ အမည်ဖြင့် မန္တလေးတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီမှ အသုံးပြုခွင့်ရရှိထားသော ကွင်းအမှတ် (၁၁၇) ၊တောင်ရင်းကွင်း၊ ဘယ်လင်းကျေးရွာ ၊စဥ့်ကိုင်မြို့နယ်၊ကျောက်ဆည်ခရိုင် ၊ မန္တလေးတိုင်း ရှိ လန-၃၉ မြေ (၈.၀၀)ဧက (၃၂၃၇၄.၈၈ စတုရန်းမီတာ)တွင် သစ်အခြေခံ ကုန်ချော ပစ္စည်းများ ထုတ်လုပ်သည့် လုပ်ငန်းကို မြန်မာ နိုင်ငံသား များ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၉-၄-၂၀၀၈)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၀၈)အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၂-၇-၂၀၀၈) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၁/၂၀၀၈) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘော တူညီချက် အရ (၂၁-၈-၂၀၀၈) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ အဖွဲ့၏ (၂၈ /၂၀၀၈) အစည်းအဝေး သို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Jewellery Lucky Production Co., Ltd)အား သစ်အခြေခံ ကုန်ချောပစ္စည်းများ ထုတ်လုပ်သည့် လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၆၉၀/၂၀၀၈ ကို ထုတ်ပေးလိုက် သည်။

၂။ ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Jewellery Lucky Production Co., Ltd)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပြုလိုက် သည်။

၃။ ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Jewellery Lucky Production Co., Ltd)သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြ ထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Jewellery Lucky Production Co., Ltd) သည် ကုန်ကြမ်းများ ဝယ်ယူရာတွင်လည်းကောင်း၊ ကုန်ချော ပစ္စည်းများ အား ပြည်ပသို့ တင်ပို့ရောင်းချရာတွင်လည်းကောင်း၊ သစ်တောရေးရာ ဝန်ကြီး ဌာနမှ ချမှတ်ထား သည့် ဥပဒေ၊ စည်းမျဉ်းစည်းကမ်းများနှင့် အညီ လိုက်နာဆောင်ရွက်ရမည်။ ကုမ္ပဏီ သည် သစ်တောရေးရာ ဝန်ကြီးဌာနတွင် လက်မှတ် ရေးထိုးထားသည့် လုပ်ငန်းဆိုင်ရာ ဝန်ခံ ကတိ ပြုစာ/ သဘောတူစာချုပ်နှင့် အညီ လိုက်နာ ဆောင်ရွက်ခြင်းမရှိပါက လုပ်ငန်း လုပ်ကိုင်ခွင့် ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၅။ ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Jewellery Lucky Production Co., Ltd)သည် ဤ အဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိ ရမည်။

၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ သစ်တော ရေးရာ ဝန်ကြီးဌာန၊ " မြန်မာ့သစ်လုပ်ငန်း"နှင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ "ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် "(Jewellery Lucky Production Co., Ltd) တို့ ချုပ်ဆို မည့် သစ်အခြေခံ လုပ်ငန်းဆိုင်ရာ သဘောတူစာချုပ် လက်မှတ်ရေးထိုး ပြီးသည့်အခါ မိတ္တူ (၅)စောင် ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၇။ (၂-၇-၂၀၀၈)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၁/၂၀၀၈) အစည်းအဝေး မှ လမ်းညွှန်ချက် အရ ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Jewellery Lucky Production Co., Ltd) မှ လုပ်ငန်းဆောင်ရွက်မှုကို သစ်တော ရေးရာ ဝန်ကြီးဌာနမှ သေချာစွာ သတိထား ကြီးကြပ်ဆောင်ရွက် ရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၉။ ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Jewellery Lucky Production Co., Ltd)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း (၉)၊ အပိုဒ်(၃၃) ပါ သတ်မှတ်ချက်များနှင့်အညီ ကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၀။ ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Jewellery Lucky Production Co., Ltd)သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့် အတိုင်းစံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။

၁၁။ ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Jewellery Lucky Production Co., Ltd)သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင် အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ် လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ် ) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၃။ ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Jewellery Lucky Production Co., Ltd)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန များမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်မည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်း က ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင် ရေးအတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၉၉၉/၂၀၀၈(၁၄၂၇၉)

ရက်စွဲ၊ ၂၀၀၈ခုနှစ်၊ စက်တင်ဘာ လ ၃ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ မန္တလေးတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး။
၅။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ အလုပ်သမား ဝန်ကြီးဌာန။
၇။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၈။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၉။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၁၀။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၁။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၂။ သစ်တောရေးရာ ဝန်ကြီးဌာန။
၁၃။ ပြည်ထဲရေးဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ သစ်လုပ်ငန်း။
၂၆။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။
၂၇။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Jewellery Lucky Production Co., Ltd)